ကုမ္ပဏီအမည် - **တောင်သမန်သစ္စာကုမ္ပဏီလီမိတက်**

လုပ်ငန်း - **တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့်တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြည်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၂၂-၃-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး၁၀/၂၀၁၇သို့ တင်ပြခြင်း | ၂၈-၃-၂၀၁၇ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၈-၄-၂၀၁၇ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ရေးဝန်ကြီးဌာန | ၆-၄-၂၀၁၇ | ၁၀-၄-၂၀၁၇ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များ အရပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၂၅-၄-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၉-၅-၂၀၁၇ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၈/၂၀၁၇)MIC | ၁၉-၅-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၅၇ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | **တောင်သမန်သစ္စာကုမ္ပဏီလီမိတက်** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | **မြန်မာ့ရိုးရာ ယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်း** |
| တည်နေရာ | မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ တောင်သမန်ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၉၂၊ တောင်သမန်ကွက်၊ ဦးပိုင်အမှတ် ၉၉၊ ၁၀၀၊ ၁၀၃/၁၊၁၀၃/၂၊ ၁၀၄၊ ၁၀၅၊ ၁၃၄/၁၊ ၁၃၅၊ ၁၃၈/၁၊ ၁၃၈/၂၊ ၁၃၉၊ ၁၅၀/၂၊ ၁၅၂/၁၊ ၁၅၂/၂/ ၁၅၃/၁ ရှိ စုစုပေါင်းမြေဧရိယာ ၄၀.၂၇ ဧက |
| စုစုပေါင်းမတည်ငွေရင်း | ကျပ် ၃၂,၃၈၈.၉၅ သန်း |
| လုပ်ငန်းသက်တမ်း | ၅၀ နှစ် |
| တည်ဆောက်ရေးကာလ | ၄ နှစ် |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကိုအောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀သန်း(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၅၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၄ | ဝင်ငွေခွန် | - | - |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၂၁.၅၈ သန်း<br>တစ်နှစ်ဝင်ငွေကျပ် သိန်း(၄၈) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၄၂) ဦး |
| ၈ | CSR(၂%) | - | - |
| ၉ | မြေငှားရမ်းခငွေ | - | - |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား (၁၂၀)ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့် အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုကို အထောက် အကူပြုစေပါသည်။ |
| | | **ကျပ် ၃.၀၀ သန်း** | **ကျပ် ၂၂.၀၈ သန်း** |
| | | **၁ း ၇** | |

တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့်တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | PAT အကြိမ်နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက် | မြန်မာ့ရိုးရာ ယဉ်ကျေးမှုနှင့် တောင်သမန် ကျေးလက် Resort စီမံကိန်း လုပ်ငန်း | ၁၀/၂၀၁၇ (၂၈-၃-၂၀၁၇) | (က) ရင်းနှီးမြှုပ်နှံမှုပမာဏ တွင်မြန်မာကျပ်ငွေဖြင့် သာတွက်ချက်ဖော်ပြရန်။<br>(ခ) နည်းဥပဒေသစ်ထွက် ရှိလာပါကသတ်မှတ်ပုံစံ ဖြင့်တင်ပြပေးရန်။ | ပြင်ဆင် တင်ပြထား ပါသည်။<br>ပြင်ဆင် တင်ပြထား ပါသည်။ | |

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | တောင်သမန်သစ္စာ<br>ကုမ္ပဏီလီမိတက် | (၁) ဦးဝမ်ဖာမြင့်(ခ)ဦးကျော်မြင့်<br>ဒါရိုက်တာ<br>မြန်မာ<br>၁၃/ကခန(နိုင်) ၀၃၇၂၇၆ | အမှတ်-၁၆၊ အကွက်(အက်ဖ်)၊ မြို့သစ် (၁)ရပ်ကွက်၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးမြို့။ |
| | | (၂) ဦးဝင်းအောင်<br>ဒါရိုက်တာ<br>မြန်မာ<br>၁၃/လရန(နိုင်)၀၈၃၀၅၇ | အမှတ်-၂၉ ၊ ချိုးဖြူလမ်း၊ စံပြဖဆပလရပ်ကွက်၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၃) ဦးကျင်သိန်း<br>ဒါရိုက်တာ<br>မြန်မာ<br>၁၂/သခတ(နိုင်)၀၃၉၅၃၃ | အမှတ်-၁၆၀၊ တတိယထပ်၊ ၄၅ လမ်း ၁၀ ရပ်ကွက်၊ ဗိုလ်တစ်ထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၄) ဦးခင်မောင်အေး<br>ဒါရိုက်တာ<br>မြန်မာ<br>၁၀/သထန(နိုင်)၀၂၉၃၀၆ | တိုက်အမှတ် ၂၂၄-စီ၊ ၁၄ ရပ်ကွက်၊ ဗိုလ်တစ်ထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၅) ဒေါ်နန်းလဲ့လဲ့ခိုင်<br>ဒါရိုက်တာ<br>မြန်မာ<br>၈/မခန(နိုင်)၀၂၀၂၈၁ | တိုက်အမှတ် ၃၊ အခန်းအမှတ် ၃၀၃/၄၊ ၇ ရပ်ကွက်၊ဥယျာဉ်အိမ်ရာလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၆) ဒေါ်နှင်းယုဝေ<br>မြန်မာ<br>၉/အမရ(နိုင်)၀၀၀၅၀၄ | ဦးယျာဉ်တော်ကျေးရွာ၊ အမရပူရမြို့နယ်၊ မန္တလေးမြို့။ |
| | | (၇) ဦးစိုင်းသိန်းလွင်<br>ဒါရိုက်တာ<br>မြန်မာ<br>၉/မရမ(နိုင်)၀၇၈၂၀၃ | အမှတ် ၈၁၆၊ ၆၃ လမ်း၊ ၃၀× ၃၁ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| | | (၈) ဒေါ်နန်းခင်ထွေး<br>ဒါရိုက်တာ<br>မြန်မာ<br>၁၃/လရန(နိုင်)၀၆၅၉၇၆ | အမှတ် ၆၂၆၊ ၇၇ လမ်း၊ ၃၁× ၃၂ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| | | (၉) ဦးအောင်ဇော်ဝင်း<br>ဒါရိုက်တာ<br>မြန်မာ<br>၉/မရမ(နိုင်)၀၇၈၂၀၃ | အမှတ် ၅၆၁၊ ၃၃× ၃၄ လမ်းကြား၊ ၈၅× ၈၆ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| | | (၁၀)ဦးခဲစန်<br>ဒါရိုက်တာ<br>မြန်မာ<br>၁၃/လရန(နိုင်)၁၀၁၂၁၅ | အမှတ် ၅၇၅၊ ၈၅ လမ်း၊ ၃၁× ၃၂ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |

| | | | |
|---|---|---|---|
| | | (၁၁) ဦးရုံးဖု<br>ဒါရိုက်တာ<br>မြန်မာ<br>၁၃/တရန(နိုင်)၀၂၄၂၅၆ | မင်္ဂလာဦးရပ်ကွက်၊ အမှတ်(၁၄)<br>ရန်ကြီးအောင်လမ်း၊ တောင်ကြီးမြို့။ |
| | | (၁၂) ဦးကျော်သိန်းဦး<br>ဒါရိုက်တာ<br>မြန်မာ<br>၁၃/နခန(နိုင်)၀၃၆၃၂၈ | အမှတ် ၂၈၇၊ ပြည်ကြီးပျော်ဘွယ်<br>(အနောက်)၊ ချမ်းအေးသာဇံမြို့နယ်၊<br>မန္တလေးမြို့။ |
| | | (၁၃) ဒေါ်မြစိန်<br>ဒါရိုက်တာ<br>မြန်မာ<br>၉/မရမ(နိုင်)၀၃၃၈၄၄ | အမှတ်(၇၄၀)၊ ၃၁× ၃၂ လမ်းကြား၊<br>၇၂× ၇၃ လမ်းကြား၊ ချမ်းအေးသာဇံ<br>မြို့နယ်၊ မန္တလေးမြို့။ |
| | | (၁၄) ဒေါ်ရန်အင်ညို<br>ဒါရိုက်တာ<br>မြန်မာ<br>၁၃/တရန(နိုင်)၀၁၄၅၆၄ | အမှတ် ၃၉၉၊ လမ်း ၈၀၊ ၃၉× ၄၀<br>လမ်းကြား၊ မဟာအောင်မြေမြို့နယ်၊<br>မန္တလေးမြို့။ |
| | | (၁၅)ဦးအောင်အောင်(ခ) ဦးလူဇင်ဟန်<br>ဒါရိုက်တာ<br>မြန်မာ<br>၁၃/တရန(နိုင်)၀၁၄၅၆၄ | ဆွမ်းမော်ရပ်ကွက်၊ မန်းဝိန်ရပ်ကွက်၊<br>မူဆယ်မြို့နယ်၊ ရှမ်းပြည်နယ်။ |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၂-၈၀၂၉၃၊ ၀၉-၄၀၂၅၂၈၁၆၈၊ ၀၉-၄၅၁၉၉၈၈၈၈

၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - အမှတ်-၁၆၊ အကွက်(အက်ဖ်)၊ မြို့သစ်(၁)ရပ်ကွက်၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးမြို့။

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးဝမ်ဖာမြင့်(ခ)ဦးကျော်မြင့် (မန်နေဂျင်းဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - မြန်မာ့ရိုးရာယဉ်ကျေးမှု နှင့် တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - ၇၁၄/၂၀၁၄-၂၀၁၅ (၁၅-၅-၂၀၁၄)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၁၄-၅-၂၀၁၉

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

လျှို့ဝှက်

**တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် Resort စီမံကိန်း လုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - တောင်သမန်သစ္စာကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဝမ်ဖာမြင့်(ခ)ဦးကျော်မြင့်<br>- မန်နေဂျင်းဒါရိုက်တာ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် Resort စီမံကိန်း လုပ်ငန်း |
| ၅။ | လုပ်ငန်းနေရာ | - မန္တလေးတိုင်းဒေသကြီး၊ မန္တလေးခရိုင်၊ အမရပူရမြို့နယ်၊ တောင်သမန် ကျေးရွာအုပ်စု၊ တောင်သမန်ကွင်းအမှတ် ၅၉၂၊ ဦးပိုင်အမှတ် ၉၉၊ ၁၀၀၊ ၁၀၃/၁၊၁၀၃/၂၊ ၁၀၄၊ ၁၀၅၊ ၁၃၄/၁၊ ၁၃၅၊ ၁၃၈/၁၊ ၁၃၈/၂၊ ၁၃၉၊ ၁၅၀/၂၊ ၁၅၂/၁၊ ၁၅၂/၂/ ၁၅၃/၁ ရှိ စုစုပေါင်းမြေဧရိယာ ၄၀.၂၇ ဧက |
| ၆။ | မြေပိုင်ရှင် | - ဦးဝမ်ဖာမြင့်(ခ)ဦးကျော်မြင့် |
| ၇။ | မြေအမျိုးအစား | - နှစ် ၃၀ ဂရန်မြေ |
| ၈။ | မြေငှားရမ်းခ | - ကိုယ်ပိုင်မြေတွင်ဆောင်ရွက်ခြင်းဖြစ်ပါသည်။<br>- ဦးဝမ်ဖာမြင့်(ခ)ဦးကျော်မြင့်အမည်ဖြင့် (၄၀.၂၇)ဧကမှာ လယ်ယာမြေ အခြားနည်းအသုံးပြုခွင့် ပုံစံ-၁၅(က) ရရှိထားပြီး (၄၀.၂၇)ဧကအနက် (၃၃.၁၅)ဧကမှာ နှစ် ၃၀ ဂရန် ရရှိထားပါသည်။ |
| ၉။ | စုစုပေါင်းမတည်ငွေရင်းပမာဏ<br>ထည့်ဝင်မည့်အမျိုးအစား<br>စက်ပစ္စည်းကိရိယာများ<br>အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ်<br>ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ<br>ဒီဇိုင်းကုန်ကျစရိတ်<br>**စုစုပေါင်း** | **ကျပ် ၃၂,၃၈၈.၉၅ သန်း**<br>**ကျပ်(သန်း)**<br>၂၃,၆၁၉.၁၁<br>၆,၅၇၄.၁၇<br>၂,၁၂၅.၆၇<br>၇၀.၀၀<br>**၃၂,၃၈၈.၉၅** |
| ၁၀။ | တည်ဆောက်ရေးကာလ | - ၄ နှစ် |
| ၁၁။ | ပဏာမစူးစမ်းလေ့လာမှုကာလ | - - |
| ၁၂။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၅၀ နှစ် |
| ၁၃။ | အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အကျဉ်းချုပ် | (see table below) |

| စဉ် | Resort စီမံကိန်းတွင်ပါဝင်သည့်လုပ်ငန်းများ | အရေအတွက် |
|---|---|---|
| (က) | မင်္ဂလာခန်းမဆောင်နှင့်အစည်းအဝေးခန်းမ | ၁ လုံး |
| (ခ) | စျေးဆိုင်ခန်းများ | ၁၃၇ လုံး |
| (ဂ) | ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း (၉၆ ခန်းပါ) | ၃ လုံး |
| (ဃ) | Shopping Centre | ၁ လုံး |
| (င) | Sale Office | ၁ လုံး |

အဆောက်အအုံ အမျိုးအစားအမျိုးမျိုးဖြင့် စုစုပေါင်း အရေအတွက် ၁၄၈ လုံးဆောက်လုပ်၍ မင်္ဂလာခန်းမဆောင်နှင့် အစည်းအဝေးခန်းမ ငှားရမ်း

လျှို့ဝှက်

| | | |
|---|---|---|
| | | ခြင်း၊ ဈေးဆိုင်ခန်းများတွင် မြန်မာ့ရိုးရာ လက်မှုပစ္စည်းများရောင်းချခြင်း၊ ဈေးဆိုင်ခန်းများအား ပြန်လည်ရောင်းချ ငှားရမ်းခြင်းနှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းတို့ကို ဆောင်ရွက်မည်ဖြစ်ပါသည်။ |
| ၁၄။ | **ဝန်ထမ်းအင်အား** | -ပြည်တွင်း ၁၂၀ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ ကျပ် ၂၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။)<br>- ပြည်ပ ၈ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၅,၀၀၀ ဖြစ်ပါသည်။) |
| ၁၅။ | **ငွေကြေးအထောက်အထား** | - ငွေကြေးအထောက်အထားအဖြစ် တောင်သမန်သစ္စာ၊ ဦးစိုင်းသိန်းလွင်၊ ဦးအောင်ဇော်ဝင်း၊ မန်နေးဂျင်းဒါရိုက်တာ ဦးဝမ်ဖာမြင့်(ခ) ဦးကျော်မြင့် အမည်ဖြင့် ရောဝတီဘဏ်၌ (၃၀-၄-၂၀၁၇) ရက်စွဲဖြင့် ကျပ်ငွေ ၂,၉၉၈,၀၄၄,၃၁၂.၉၄ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | CSR | - CSR လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ၂ % အသုံးပြုသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၇။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး စီမံချက်ရေးဆွဲတင်ပြထားပါသည်။ |
| ၁၈။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - အဆိုပြုလုပ်ငန်းအတွက် လျှပ်စစ်ဓာတ်အား ၁၀ မဂ္ဂါဝပ်လိုအပ်မည် ဖြစ်ပြီး လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနနှင့် ဆက်သွယ်ဆောင်ရွက် သွားမည်ဖြစ်ကြောင်း နှင့် လုပ်ငန်းခွင်အတွင်းတွင် ဓာတ်အားခွဲရုံ တည်ဆောက်ရန်လည်း စီစဉ်ထားကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - Third Party ဖြစ်သည့် OSHE အဖွဲ့နှင့် EIA ၊ SIA အစီရင်ခံစာ ရေးဆွဲလျက်ရှိပါသည်။ |
| ၂၀။ | အခြားတင်ပြချက်များ | - အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၄/၂၀၁၇) (၉-၃-၂၀၁၇) ဆွေးနွေးဆုံးဖြတ်ချက်အရ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းကို ကန့်ကွက်ရန် မရှိကြောင်း မန္တလေးတိုင်းဒေသကြီးအစိုးရ အဖွဲ့မှ သဘောထားမှတ်ချက် တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေနေရာနှင့်စပ်လျဉ်း၍ မြေစာရင်း ပုံစံ (၁၀၅)၊ ပုံစံ(၁၀၆) နှင့် လယ်ယာမြေအားအခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့် ပုံစံ-၁၅(က)တို့ကိုတင်ပြထားပါသည်။<br>- ဆောက်လုပ်မည့်အဆောက်အဦ ဒီဇိုင်းနှင့် Layout Plan များကိုတင်ပြထားပါသည်။<br>- တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်သည် (၁၅-၅-၂၀၁၄)ရက်နေ့ တွင် ဖွဲ့စည်းမှတ်ပုံတင်ထားပြီး ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ MOA၊ AOA (မိတ္တူ) နှင့် ဒါရိုက်တာစာရင်းတို့ကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၂၁။ | စိစစ်တင်ပြချက် | (က)အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် စုစုပေါင်းမြေ ၄၀.၂၇ ဧက မှာ မန်နေးဂျင်းဒါရိုက်တာ ဦးဝမ်ဖာမြင့်(ခ)ဦးကျော်မြင့်အမည်ဖြင့် လယ်ယာမြေအား အခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့်ပုံစံ-၁၅(က)ရရှိထားယင်းအနက် ၃၃.၁၅ ဧကမှာ နှစ် ၃၀ ဂရန်ရရှိထားပါသည်။<br>(ခ) တောင်သမန်သစ္စာ ကုမ္ပဏီအနေဖြင့် မြန်မာ့ရိုးရာ ယဉ်ကျေးမှုနှင့် တောင်သမန် ကျေးလက် Resort စီမံကိန်းလုပ်ငန်း အား Developer အဖြစ်အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။<br>(ဂ) ကုမ္ပဏီမှ အကောင်အထည်ဖော် ဆောင်ရွက်မည့် မြန်မာ့ရိုးရာ ယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် စီမံကိန်းလုပ်ငန်းတွင် အောက်ပါတို့ကို အကောင်အထည်ဖော်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း စိစစ်ရပါသည်-<br>(၁) အများပြည်သူ သွားလာနိုင်သော ကတ္တရာလမ်း၊ ကွန်ကရီလမ်းမကြီးများ<br>(၂) ပန်းခြံ၊ ကစားကွင်းနှင့်ကန်ပတ်လမ်း<br>(၃) မင်္ဂလာခန်းမဆောင်နှင့်အစည်းအဝေးခန်းမ<br>(၄) ဈေးဆိုင်ခန်းများ<br>(၅) ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း<br>(ဃ)ကုမ္ပဏီမှ ဖောက်လုပ်မည့်လမ်းများ၊ ပန်းခြံ၊ ကစားကွင်း နှင့် ကန်ပတ်လမ်းတို့ကို အများပြည်သူများအား အခကြေးငွေမယူ ဘဲအသုံးပြုခွင့်ပြုမည်ဖြစ်ပြီး မင်္ဂလာခန်းမဆောင်နှင့် အစည်းအဝေးခန်းမ၊ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို အခကြေးငွေ ချိုသာစွာဖြင့် ဝန်ဆောင်မှုပေးမည်ဖြစ်ကြောင်း၊ ဈေးဆိုင်ခန်းများအား ပြန်လည်ငှားရမ်းခြင်း၊ ရောင်းချခြင်းတို့ကို ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဈေးဆိုင်ခန်းများတွင် မြန်မာ့ရိုးရာ လက်မှုပစ္စည်းများကို ရောင်းချခြင်းကို အဓိကဆောင်ရွက်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။<br>(င) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ESIA အစီရင်ခံစာရေးဆွဲတင်ပြရန် သဘောထားမှတ်ချက်ပြုထားပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၅ (က)အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင်ခွင့်ပြုမိန့်ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစားဖြစ်ပါသည်။<br>(စ) မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်တွင် အကောင်အထည် ဖော်ဆောင်ရွက်မည်ဖြစ်၍ ဇုန်(၃)တွင် ပါဝင်ပါသည်။<br>(ဆ)ကုမ္ပဏီအနေဖြင့် လုပ်ငန်းအတွက် လိုအပ်သော ပစ္စည်းများ အား ပြည်တွင်းမှသာ ဝယ်ယူအသုံးပြုမည်ဖြစ်၍ ပြည်ပမှ တင်သွင်းရန် မရှိကြောင်း စိစစ်ရပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/မ-၀၂၂/၂၀၁၇( ၂၁၅ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေ လ ၃) ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့်တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ တောင်သမန်ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၉၂၊ တောင်သမန်ကွက်ရှိမြေ (၄၀.၂၇)ဧကတွင် မြန်မာ့ရိုးရာယဉ်ကျေးမှု နှင့် တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်၏ အုပ်ချုပ်မှုဒါရိုက်တာ ဦးဝမ်ဖာမြင့်(ခ)ဦးကျော်မြင့်အား တောင်သမန်ကျေးရွာအုပ်စု ကွင်းအမှတ် ၅၉၂၊ တောင်သမန်ကွက်၊ ဦးပိုင်အမှတ် ၉၉၊ ၁၀၀၊ ၁၀၃/၁၊၁၀၃/၂၊ ၁၀၄၊ ၁၀၅၊ ၁၃၄/၁၊ ၁၃၅၊ ၁၃၈/၁၊ ၁၃၈/၂၊ ၁၃၉၊ ၁၅၀/၂၊ ၁၅၂/၁၊ ၁၅၂/၂/ ၁၅၃/၁ ရှိ စုစုပေါင်းမြေဧရိယာ ၄၀.၂၇ ဧကအား မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် Resort မြေနေရာအဖြစ်အသုံးပြုရန် ခွင့်ပြုထားပါသည်။

၃။ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး (၅၀)နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၄ နှစ်ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၃၂,၃၈၈.၉၅ သန်းဖြစ်ပြီး မတည်ငွေရင်း အသေးစိတ်အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | စဉ် | ကျပ်(သန်း) |
|---|---|---|
| (က) | စက်ပစ္စည်းကိရိယာများ | ၂၃,၆၁၉.၁၁ |
| (ခ) | အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | ၆,၅၇၄.၁၇ |
| (ဂ) | ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ | ၂,၁၂၅.၆၇ |
| (ဃ) | ဒီဇိုင်းကုန်ကျစရိတ် | ၇၀.၀၀ |
| | **စုစုပေါင်း** | **၃၂,၃၈၈.၉၅** |

၅။ ကုမ္ပဏီမှ အကောင်အထည်ဖော်ဆောင်ရွက်မည့် မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် စီမံကိန်း လုပ်ငန်းတွင် တစ်ဖက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါသည်-

| စဉ် | Resort စီမံကိန်းတွင်ပါဝင်သည့်လုပ်ငန်း များ | အရေအတွက် |
|---|---|---|
| (က) | မင်္ဂလာခန်းမဆောင်နှင့်အစည်းအဝေးခန်းမ | ၁ လုံး |
| (ခ) | ဈေးဆိုင်ခန်းများ | ၁၃၇ လုံး |
| (ဂ) | ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း (၉၆ ခန်းပါ) | ၃ လုံး |
| (ဃ) | Shopping Centre | ၁ လုံး |
| (င) | Sale Office | ၁ လုံး |

အဆောက်အဦ အမျိုးအစားအမျိုးမျိုးဖြင့် စုစုပေါင်း အရေအတွက် ၁၄၈ လုံးဆောက်လုပ်၍ မင်္ဂလာခန်းမ ဆောင်နှင့် အစည်းအဝေးခန်းမ ငှားရမ်းခြင်း၊ ဈေးဆိုင်ခန်းများတွင် မြန်မာ့ရိုးရာ လက်မှုပစ္စည်းများရောင်းချခြင်း၊ ဈေးဆိုင်ခန်းများအား ပြန်လည်ရောင်းချငှားရမ်းခြင်းနှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းတို့ကို ဆောင်ရွက်မည် ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၁၂၀) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်၍ ပြည်ပဝန်ထမ်း (၈)ဦးခန့်ထား ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ ကျပ် ၂၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ အမေရိကန်ဒေါ်လာ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၅,၀၀၀ ဖြစ်ပါသည်။

၇။ ငွေကြေးအထောက်အထားများအဖြစ်တောင်သမန်သစ္စာဦးစိုင်းသိန်းလွင်၊ ဦးအောင်ဇော်ဝင်း၊ မန်နေးဂျင်းဒါရိုက်တာ ဦးဝမ်ဖာမြင့်(ခ) ဦးကျော်မြင့် အမည်ဖြင့် ရေဝတီဘဏ်၌ (၃၀-၄-၂၀၁၇) ရက်စွဲဖြင့် ကျပ်ငွေ ၂,၉၉၈,၀၄၄,၃၁၂.၉၄ ရှိကြောင်း တင်ပြထားပါသည်။

၈။ ခန့်ထားမည့်ဝန်ထမ်းများ နှင့်ပတ်သက်၍ လုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိမှု ဆောင်ရွက်မည့်အစီအမံများ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့်အစီအမံ၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအစီအမံတို့ကိုတင်ပြထားပြီး လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility -CSR)အတွက် အသားတင်အမြတ်၏ ၂ % အား ပညာရေး၊ ကျန်းမာရေး၊ နည်းပညာဖွံ့ဖြိုးရေး နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးတို့အတွက် အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၉။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် မတ်လ ၂၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၁၀/၂၀၁၇)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ESIA အစီရင်ခံစာရေးဆွဲ တင်ပြရန် သဘောထားမှတ်ချက်ပြုထားပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၅ (က)အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင်ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

(ခ) ကိုယ်ပိုင်မြေတွင်ဆောင်ရွက်ခြင်းဖြစ်ပြီး မြေပိုင်ဆိုင်မှုအဖြစ် မြေဂရန် အထောက်အထားများကို တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄/၂၀၁၇) (၉-၃-၂၀၁၇) ဆွေးနွေး ဆုံးဖြတ်ချက်အရ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းကို ကန့်ကွက်ရန်မရှိကြောင်း မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ တင်ပြထားပါသည်။

(ဃ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ စုစုပေါင်းမြေဧရိယာ ၄၀.၂၇ ဧကအား မြန်မာ့ရိုးရာ ယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် Resort မြေနေရာအဖြစ် အသုံးပြုရန် ခွင့်ပြုထားပါသည်။

ကြောင်း၊ စုစုပေါင်းမြေဧရိယာ ၄၀.၂၇ ဧကအနက် ၃၃.၁၅ ဧကအား မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂ ရက်နေ့ ရက်စွဲဖြင့် နှစ်(၃၀) မြေငှားရမ်းရန် ခွင့်ပြုထားကြောင်း၊ ကျန် (၈.၁၂)ဧကမှာ လမ်းဖောက်လုပ်ရန် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

(င) ကုမ္ပဏီမှ အကောင်အထည်ဖော် ဆောင်ရွက်မည့် မြန်မာ့ရိုးရာ ယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက်စီမံကိန်း လုပ်ငန်းတွင် အောက်ပါတို့ကို အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁) အများပြည်သူ သွားလာနိုင်သော ကတ္တရာလမ်း၊ ကွန်ကရီလမ်းမကြီးများ

(၂) ပန်းခြံ၊ ကစားကွင်းနှင့်ကန်ပတ်လမ်း

(၃) မင်္ဂလာခန်းမဆောင်နှင့်အစည်းအဝေးခန်းမ

(၄) ဈေးဆိုင်ခန်းများ

(၅) ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(စ) ကုမ္ပဏီမှ ဖောက်လုပ်မည့်လမ်းများ၊ ပန်းခြံ၊ ကစားကွင်း နှင့် ကန်ပတ်လမ်းတို့ကို အများပြည်သူများအား အခကြေးငွေမယူ ဘဲအသုံးပြုခွင့်ပြုမည်ဖြစ်ပြီး မင်္ဂလာခန်းမဆောင်နှင့် အစည်းအဝေးခန်းမ၊ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို အခကြေးငွေ ချိုသာစွာဖြင့် ဝန်ဆောင်မှုပေးမည်ဖြစ်ကြောင်း၊ ဈေးဆိုင်ခန်းများအား ပြန်လည်ငှားရမ်းခြင်း၊ ရောင်းချခြင်းတို့ကို ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဈေးဆိုင်ခန်းများတွင် မြန်မာ့ရိုးရာလက်မှုပစ္စည်းများကို ရောင်းချခြင်းကို အဓိကဆောင်ရွက်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။

(ဆ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် လုပ်ငန်းသုံးပစ္စည်းများအား ပြည်တွင်းမှဝယ်ယူသုံးစွဲမည်ဖြစ်ပါသည်။

(ဇ) ဟိုတယ်နှင့်အပန်းဖြေစခန်းများတည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းများသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ ရင်းနှီးမြှုပ်နှံမှုမြှင့်တင်မည့်ကဏ္ဍစာရင်းတွင်ပါဝင်ပါသည်။ အဆိုပြုလုပ်ငန်းသည် မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်၍ ဇုန်(၃)တွင် ပါဝင်ပါသည်။ ကုမ္ပဏီမှ အခွန်ကင်းလွတ်ခွင့်သက်သာခွင့်လျှောက်ထားလွှာပူးတွဲတင်ပြထားပြီး ဝင်ငွေခွန် (၃)နှစ်ခံစားနိုင်မည်ဖြစ်ပါသည်။

(ဈ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မြန်မာ့ရိုးရာ ယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့




စာအမှတ်၊ ၂ / ၃-၆ / ၂၂ ဦး ဖ (၁၇၄)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၂၅ ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၂၃ . ၁၁ . ၂၀၁၆ )ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/မ-ထွေ/၂၀၁၆(၅၃၃)

(၂) တောင်သမန်သစ္စာကုမ္ပဏီလီမိတက်၏ ( ၁၄ . ၂ . ၂၀၁၇ )ရက်စွဲပါ စာအမှတ်၊ ၀၀၁၄ / ၂၀၁၇

၁။ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးခရိုင်၊ အမရပူရမြို့နယ်၊ တောင်သမန်အင်းအရှေ့ဘက်တွင် မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့်တောင်သမန်ကျေးလက် Resort စီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်တင်ပြတောင်းခံခဲ့ရာတွင် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်နှင့်အတူ ပြန်လည်တင်ပြရန် ကုမ္ပဏီသို့ ရည်ညွှန်း( ၁ )ပါစာဖြင့်အကြောင်းကြားခဲ့မှုအပေါ် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်း( ၂ )ပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ( ၉ .၃.၂၀၁၇ )ရက်နေ့တွင် ကျင်းပပြုလုပ်သည့်အစည်းအဝေးအမှတ်စဉ်( ၄ / ၂၀၁၇ )၊ ဆုံးဖြတ်ချက်အပိုဒ် - ၃၁အရ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

၂၄/၃

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

မိတ္တူကို

မန္တလေးတိုင်းဒေသကြီးသယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီး၊
တောင်သမန်သစ္စာကုမ္ပဏီလီမိတက်၊
လှည့်လည်စာတွဲ / ရုံးလက်ခံ။




M4-9286
10.4.17

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ဝ၀၁/ MIC(OSS) /၀၁(၁၁၄/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် စပ်လျဉ်း၍သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၄-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက- ၅ (အ)/ မ-၀၂၂/ ၂၀၁၇ (၁၄၃)

၁။ တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ တောင်သမန်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၅၉၂၊ တောင်သမန်ကွက်ရှိမြေ- ၄၀.၂၇ ဧက (၁,၆၂,၉၆၇.၀၅ စတုရန်းမီတာ) ပေါ်တွင် မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၄) နှစ်ဖြစ်ကြောင်း၊ မြေဧရိယာအကျယ်အဝန်း ၄၀.၂၇ ဧက (စတုရန်းမီတာ ၁,၆၂,၉၆၇.၀၅) ပေါ်တွင် အများပြည်သူသွားလာနိုင်သည့် ကတ္တရာကွန်ကရိလမ်းမကြီးများ၊ အပန်းဖြေနိုင်ရန် ပန်းခြံ၊ ကစားကွင်းနှင့် ကန်ပတ်လမ်း၊ မင်္ဂလာဆောင်ခန်းမ၊ ဈေးဆိုင်ခန်းများနှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများအပါအဝင် စုစုပေါင်းအဆောက်အဦ (၁၃၇) လုံးကို တည်ဆောက်သွားမည်ဖြစ်ကြောင်း၊

(ခ) အဆိုပြုစီမံကိန်းအတွက် ဗဟိုစွန့်ပစ် ရေဆိုးသန့်စင်ခြင်းစနစ်ကို တည်ဆောက်မည်ဖြစ်ပြီး စီမံကိန်းတွင်ပါဝင်သောအဆောက်အဦများမှ စွန့်ပစ်ရေဆိုးများသာမက ပတ်ဝန်းကျင်ရှိရွာများမှရေဆိုးများကိုလည်းသန့်စင်ပြီး မြစ်ငယ်မြစ်အတွင်းသို့ စွန့်ပစ်သွားမည်ဖြစ်ကြောင်း၊

(ဂ) မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရေးအတွက် ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုဆန်းစစ်ခြင်း (EIA, SIA) ကို OSHE အဖွဲ့နှင့် ငှားရမ်းဆောင်ရွက်ခဲ့ပြီး ပြည်သူလူထုနှင့် (၂) ကြိမ်တိုင်တွေ့ဆုံ

ဆွေးနွေးမှုပြုလုပ်ပြီးဖြစ်ကာ ထောက်ခံမှုရရှိထားပြီးဖြစ်ပါကြောင်း၊ လေ့လာဆန်းစစ်မှုမှရရှိသော သက်ရောက်မှုများနှင့် အရေးယူဆောင်ရွက်ရန်နည်းလမ်းများ ဖော်ထုတ်ရရှိမှုကို အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) အဆိုပြု တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်းအတွက် တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် မြေသားပြုပြင်ဖော်ထုတ်ခြင်းကြောင့်ထွက်ရှိလာမည့် အမှုန့်၊ အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံးစက်နှင့် ယာဉ်ယန္တရားများ၏ ဆူညံအသံကြောင့် အသံညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) စွန့်ပစ်ပစ္စည်းများဖြစ်သော အမဲဆီ၊ အင်ဂျင်ဝိုင်၊ လောင်စာဆီစသည့် စွန့်ပစ် အဆီ/ အရည်/ အစိုင်အခဲများကြောင့် ပတ်ဝန်းကျင် မြေထုနှင့် တောင်သမန်အင်းအတွင်းရှိ ရေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) အဆိုပြုစီမံကိန်းတွင် နေထိုင်သောပြည်သူများနှင့် ဟိုတယ်၊ ဈေးဆိုင်ခန်းနှင့်အပန်းဖြေစခန်းများမှ စွန့်ပစ်ပစ္စည်း အရည်၊ အစိုင်အခဲများ၊ မိလ္လာအညစ်အကြေးများကြောင့်ပတ်ဝန်းကျင် ရေထု၊ မြေထု၊ လေထု ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း စွန့်ပစ်ရေဆိုးများကို ဇဟိုစွန့်ပစ်ရေဆိုး သန့်စင်သည်စနစ်ဖြင့်သန့်စင်ပြီး မြစ်ငယ်မြစ်အတွင်းသို့ စွန့်ပစ်မည်ဖြစ်သဖြင့် သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ စွန့်ပစ်ရန်လိုအပ်ပြီး သတ်မှတ်ချက်များနှင့်ကိုက်ညီမှုမရှိပါက ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ပြီး မြစ်အောက်ဘက်ရှိရေ အသုံးပြုသည့် ပြည်သူများကို ကူးစက်ရောဂါနှင့် ဆိုးကျိုးများဖြစ်စေနိုင်ခြင်း၊

၄။ သို့ဖြစ်ပါ၍ တောင်သမန်သစ္စာကုမ္ပဏီလီမိတက်မှ မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် Resort စီမံကိန်းလုပ်ငန်းတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment-ESIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်နှင့်ကြိုတင်ရေးဆွဲပြီးဖြစ်ပါကအောက်ဖော်ပြပါအချက်များနှင့်အညီ ပြန်လည်တင်ပြနိုင်ရေးစီစဉ်ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental and Social Impact Assessment-ESIA)** မစတင်မီအဆိုပါလုပ်ငန်းကိုဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (ESIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင် အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်

ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဓ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင်နေထိုင်သောဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

တောင်သမန်သစ္စာကုမ္ပဏီမှမန်နေးဂျင်းဒါရိုက်တာဦးကျော်မြင့်အမည်ဖြင့်ဂရန်ရရှိထားသည့်
မြေဧရိယာစုစုပေါင်း

| စဉ် | မြေတိုင်းရပ်ကွက် | မြေကွက်အမှတ် | ဧရိယာ | မြေဂရန်သက်တမ်း |
|---|---|---|---|---|
| ၁ | ၅၉၂ | ၁၀၄/၁+၁၀၅/၁ | ၁.၉၈ | ၃၀ နှစ် |
| ၂ | ၅၉၂ | ၉၉/၁+၁၀၀+၁၀၃/၂ | ၄.၈၈ | ၃၀ နှစ် |
| ၃ | ၅၉၂ | ၁၀၃/၄ | ၀.၉၉ | ၃၀ နှစ် |
| ၄ | ၅၉၂ | ၁၀၃/၁၊ ၁၀၄/၃၊ ၁၅၂/၃ | ၂.၃၂ | ၃၀ နှစ် |
| ၅ | ၅၉၂ | ၁၅၂/၅ | ၀.၉၅ | ၃၀ နှစ် |
| ၆ | ၅၉၂ | ၉၉/၂+၁၅၃/၁ | ၁.၆၉ | ၃၀ နှစ် |
| ၇ | ၅၉၂ | ၁၀၄/၂+၁၅၂/၄ | ၂.၀၆ | ၃၀ နှစ် |
| ၈ | ၅၉၂ | ၁၃၉ | ၁.၃ | ၃၀ နှစ် |
| ၉ | ၅၉၂ | ၁၃၅+၁၃၈/၁+၁၃၈/၂+၁၅၂/၂ | ၄.၂၂ | ၃၀ နှစ် |
| ၁၀ | ၅၉၂ | ၁၃၅/၁+၁၃၉/၁ | ၁.၅၅ | ၃၀ နှစ် |
| ၁၁ | ၅၉၂ | ၁၃၄/၁ | ၂.၃၇ | ၃၀ နှစ် |
| ၁၂ | ၅၉၂ | ၁၅၀/၂+၁၅၂/၁-ခ | ၄.၄၂ | ၃၀ နှစ် |
| ၁၃ | ၅၉၂ | ၁၅၂/၁-က | ၄.၄၂ | ၃၀ နှစ် |
| စုစုပေါင်းဧရိယာ | | | ၃၃.၁၅ | |